ပုံစံ(မနသ-၂)

# ငြိမ်း ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

၊.အမှတ်၊ မနသ-.........၈၁၈./၂၀ ၁၁ ၂၀ ၁၁ ခုနှစ် စက်တင်ဘာ လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၁ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဒေါ်သီတာတင်

(ခ) အဘအမည် ......ဦးတင်ကြိုင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂/သဃက (နိုင်) ၁၁၅၂၄၃

(ဃ) နေရပ်လိပ်စာ ......အမှတ် (၁၃၁)၊လုံးသွယ်လမ်း၊ အမှတ်(၂၉)ရပ်ကွက်၊ သဃၤန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......စည်းလုံးခြင်းမြန်မာကုမ္ပဏီ လီမိတက် (Harmony Myanmar Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ......မြေကွက်အမှတ်(၁၈၂/၃)၊(၁၈၂/၄)ဗန်းမော် အတွင်းဝန်လမ်း၊ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ......၁၈၉.၀၀ (သန်း) (အမေရိကန်ဒေါ်လာ (၀.၂၀)သန်း အပါအဝင်စုစုပေါင်းကျပ် တစ်ရာရှစ်ဆယ့်ကိုးသန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်

M-037
14/1

အကြောင်းအရာ ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် Harmony Myanmar Co.,Ltd မှ ခွင့်ပြုမိန့် ပြန်လည်အပ်နှံခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ လုပ်ငန်းဆောင်ရွက်လျက်ရှိသည့်လုပ်ငန်းများမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် သို့ ပြောင်းလဲဆောင်ရွက်ခွင့် ပြုပါရန် Harmony Myanmar Co.,Ltd မှ တင်ပြလျှောက်ထား လာခြင်းကို ကော်မရှင်မှ အောက်ပါအတိုင်း ခွင့်ပြုခဲ့ ပါသည်-

| ကုမ္ပဏီအမည် | ခွင့်ပြုမိန့် အမှတ်/ ရက်စွဲ | ကော်မရှင် အစည်းအဝေး အကြိမ် | ရင်းနှီးမြှုပ်နှံမှု ပုံစံ |
|---|---|---|---|
| စည်းလုံးခြင်းမြန်မာ ကုမ္ပဏီ လီမိတက် Harmony Myanmar Co., Ltd | ၈၁၀/၂၀၁၁ ၂၇-၉-၂၀၁၁ | ၁၇/၂၀၁၂ (၁၃-၆-၂၀၁၂) | နိုင်ငံခြား ဖက်စပ် ရင်းနှီးမြှုပ်နှံမှု |

၂။ အဆိုပါ ကုမ္ပဏီ မှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ နိုင်ငံခြားဖက်စပ်ရင်းနှီးမြှုပ်နှံမှုအဖြစ် ရင်းနှီးမြှုပ်နှံမှုပြုလုပ်နိုင်ရန် ကော်မရှင်မှ ခွင့်ပြုခဲ့ပြီးဖြစ်ပါသဖြင့် ၊ ယခင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုခဲ့သည့် ကော်မရှင် ခွင့်ပြုမိန့်အား ပြန်လည် အပ်နှံလာခြင်းဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ကုမ္ပဏီ မှ ခွင့်ပြုမိန့် ပြန်လည်အပ်နှံလာခြင်း အပေါ် ရုပ်သိမ်း အမိန့်ကြော်ငြာစာ ထုတ်ခွင့်ပြုပါရန် နှင့် ခွင့်ပြုပါက အမိန့်ကြော်ငြာစာ ထုတ်ပြန်နိုင်ရေး အတွက် ဆောင်ရွက်နိုင်ရန် **ခွင့်ပြုမိန့်မူရင်း** အား ရင်းနှီး (၂) သို့ လွှဲပြောင်းခွင့် ပြုပါရန် လမ်းညွှန်မှုခံယူအပ်ပါသည်။

(အောင်မင်းဦး)
ဒုတိယဦးစီးမှူး

<u>လက်ထောက်ညွှန်ကြားရေးမှူး(ရင်းနှီး/ကြီးကြပ်)</u>

၄။ [illegible] Harmony Myanmar Co.,Ltd သည် [illegible] ရင်းနှီးမြှုပ်နှံမှု [illegible] (၁၃.၆.၂၀၁၂) [illegible] နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု [illegible] proposal [illegible]




# HARMONY MYANMAR CO.,LTD

No. 182/3,4, BAMAW AHTWIN WUN STREET, SHWE LINBAN INDUSTRIAL ZONE
HLAING THAR YAR TOWNSHIP, YANGON, MYANMAR.
Tel : 01-1292570, 09-5019136, Fax : 09-5098297 , E.mail : harmonymyanmar@gmail.com

DG 20 9/1/13

M-031 9/1

DDA 19 9/1




သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်
နေပြည်တော်

စာအမှတ် ၊Harmony / MIC / 2013( 009 )

ရက်စွဲ ၊ ၂၀၁၃ခုနှစ် ၊ ဇန်နဝါရီလ (၉ )ရက်

အကြောင်းအရာ။ ။Harmony Myanmar Company Limited ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေခွင့်ပြုမိန့်အား ပြန်လည်အပ်နှံပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေခွင့်ပြုမိန့် ထုတ်ပေးပါရန် တင်ပြခြင်းကိစ္စ။

Harmony Myanmar Company Limited သည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေမှနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့်ဆောင်ရွက်ခွင့်ကိုကော်မရှင်၏ ၁၇/၂၀၁၂ (၁၃. ၆. ၂၀၁၂) ဖြင့်ခွင့်ပြုခဲ့ပြီးနိုင်ငံခြားရင်းနှီးမြှုပ်မှုအဖြစ် အဆိုပြုတင်ပြချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၆ / ၂၀၁၂ ( ၂၉. ၁၁. ၂၀၁၂ )အစည်းအဝေးမှ ခွင့်ပြုပြီးဖြစ်ပါသည်။

Harmony Myanmar Company Limited ယခင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ဆောင်ရွက်စဉ်က တင်သွင်းထားသည့် ကုန်ကြမ်းများကိုချုပ်လုပ်ပြီး ကုန်ချောအဖြစ်ပြည်ပသို့တင်ပို့မှုကို ၂၀၁၃ ခုနှစ် မတ်လ ကုန်ခန့်အထိ အပြီးသတ်တင်ပို့နိုင်ရန် ခန့်မှန်းထားပါသည်။




# HARMONY MYANMAR CO.,LTD

No. 182/3,4, BAMAW AHTWIN WUN STREET, SHWE LINBAN INDUSTRIAL ZONE
HLAING THAR YAR TOWNSHIP, YANGON, MYANMAR.
Tel : 01-1292570, 09-5019136, Fax : 09-5098297 , E.mail : harmonymyanmar@gmail.com

သို့ဖြစ်ပါ၍ Harmony Myanmar Company Limited ၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ခွင့်ပြုမိန့်မူရင်းအား ပြန်လည်အပ်နှံခွင့်ပြုပါရန် နှင့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေခွင့်ပြုမိန့် မူရင်းအား လုပ်ငန်းများစတင် အကောင်အထည်ဖော်ရန်အတွက် ထုတ်ယူခွင့်ပြုပါရန် ၊မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်မူရင်း၊ ကုန်ကြမ်းတင်သွင်းထားသည့်စာရင်း ၊ကုန်ချောပြန်လည်တင်ပို့မည့် ခန့်မှန်းစာရင်းများနှင့်အတူ ပူးတွဲ၍တင်ပြလမ်းညွှန်မှုခံယူအပ်ပါသည်။

လေးစားစွာဖြင့်

KYAW SEIN @ YANG SHI KAUNG
MANAGING DIRECTOR
HARMONY MYANMAR CO., LTD.




# HARMONY MYANMAR CO.,LTD

No. 182/3,4, BAMAW AHTWIN WUN STREET, SHWE LINBAN INDUSTRIAL ZONE
HLAING THAR YAR TOWNSHIP, YANGON, MYANMAR.
Tel : 01-1292570, 09-5019136, Fax : 09-5098297 , E.mail : harmonymyanmar@gmail.com




ဝန်ခံကတိပြုစာ

ရက်စွဲ ၊ ၂၀၁၃ခုနှစ်၊ ဇန်နဝါရီလ (၉ )ရက်

Harmony Myanmar Company Limited သည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့်ဆောင်ရွက်ခွင့်ကို ကော်မရှင်၏ ၁၇ /၂၀၁၂ (၁၃. ၆. ၂၀၁၂) ဖြင့်ခွင့်ပြုခဲ့ပြီး နိုင်ငံခြားရင်းနှီးမြှုပ်မှုအဖြစ်အဆိုပြုတင်ပြချက်ကို မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ၃၆/၂၀၁၂ ( ၂၉. ၁၁. ၂၀၁၂ )အစည်းအဝေးမှ ခွင့်ပြုပြီးဖြစ်ပါသည်။

Harmony Myanmar Company Limited သည် ယခင်မြန်မာနိုင်ငံသားရင်းနှီးမြှုပ် နှံမှုဥပဒေဖြင့် ဆောင်ရွက်စဉ်က တင်သွင်းထားသည့် ကုန်ကြမ်းများကိုချုပ်လုပ်ပြီး ကုန်ချောအဖြစ်ပြည်ပသို့ တင်ပို့မှုကို ၂၀၁၃ ခုနှစ် မတ်လ ကုန်ခန့်အထိ အပြီးသတ်တင်ပို့နိုင်ရန် ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

KYAW SEIN @ YANG SHI KAUNG
MANAGING DIRECTOR
HARMONY MYANMAR CO., LTD.

| Export Quantity & Schedule | | | |
|---|---|---|---|
| Contract No. | Export Quantity( pcs) | | Shipping Date |
| | Korea | China | |
| HM-18 | 25090 | 20390 | 7-Jan-2013 |
| HM-6R | 5190 | | 10-Jan-2013 |
| HM-19 | 47000 | | 4-Jan-2013 |
| HM-20 | 63330 | 17500 | 22-Jan-2013 |
| HM-21 | 255380 | 112130 | 1-Feb-2013 |
| HM-22 | 40460 | 15520 | 12-Feb-2013 |
| HM-23 | 210150 | | 10-Mar-2013 |
| HM-24 | 81290 | 6900 | 30-Mar-2013 |
| **TOTAL** | **727890** | **172440** | |

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄၇ / ၂၀၁၁(မနသ)

နေပြည်တော်၊ ၁၃၇၃ ခုနှစ် ၊ တော်သလင်းလပြည့်ကျော် ၁၂ ရက်

(၂၀၁၁ခုနှစ်၊ စက်တင်ဘာ လ ၂၇ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော စည်းလုံးခြင်း မြန်မာ ကုမ္ပဏီ လီမိတက် (Harmony Myanmar Co., Ltd.) သည် ဦးကျော်ကျော်အမည်ဖြင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန် ၊ဗန်းမော်အတွင်းဝန်လမ်း၊ မြေကွက်အမှတ် (၁၈၂/၃) နှင့် (၁၈၂/၄)တို့ရှိ မြေ (၂.၉၈၇)ဧက အနက်မှ (၁.၇၃၅) ဧကနှင့် ယင်း မြေပေါ်ရှိ အဆောက်အဦ တို့ကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည် ထုတ်လုပ်ခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက် အား (၂၁-၉-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များ ကို ကျင့်သုံးလျက် စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) အား CMP စနစ် ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊မနသ-၈၁၀ / ၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ သားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့်အညီ အောက် ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏ ကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤ ကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေ ဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် (၅၀%)အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစား

ပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးမတည် ပစ္စည်းများ အပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်း သည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ တစ်ဖက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ စျေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

၄။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ ဦးကျော်ကျော် နှင့် အငှားချထားခြင်းခံရသူ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၈။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင် သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရ မည်။

၉။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များမဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ

ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၁၀။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက် ရမည်။

၁၁။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများ ကို သတ်မှတ်ထား သော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင် ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်း သည်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၁၆၉/၂၀၁၁( ၉၈၉၀ )
ရက်စွဲ၊ ၂၀၁၁ခုနှစ်၊ စက်တင်ဘာ လ၂၇ ရက်။

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။
၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။
၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။
၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။
၅။ ပြည်ထဲရေးဝန်ကြီးဌာန။
၆။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၇။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၁၆။ ဥက္ကဋ္ဌ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အလုပ်သမားဝန်ကြီးဌာန)

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၃၀။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၂။ အုပ်ချုပ်မှုဒါရိုက်တာ၊ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd.)

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏အမည် | ဒါရိုက်တာ/ အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | အရှေ့တိုးတက်မှု အထည်ချုပ် ကုမ္ပဏီလီမိတက် | (၁) ဒေါ်သီတာတင် (ဒါရိုက်တာ)<br>(၂) ဒေါ်ဇင်မျိုးခိုင် (ဒါရိုက်တာ) | အမှတ် - ၇ (ဒီ) ၊ စောမဟာလမ်း၊ ဗိုလ်ချို (၂) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။<br>အမှတ် - ၅၆၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ (၁၀) ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

| စဥ် | ဆွေးနွေးတင်ပြချက် | ဆုံးဖြတ်ချက် |
|---|---|---|
| | (င) ကျပ်ငွေအထောက်အထား - ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာဖြစ်သူ ဒေါ်သီတာတင်အမည်နှင့် ဒါရိုက်တာဖြစ်သူ ဒေါ်ဇင်မျိုးခိုင်အမည်ဖြင့် မြဝတီ ဘဏ်လီမိတက်ရှိ (၅-၇-၂၀၁၁)နေ့ရှိ ငွေလက်ကျန်ကျပ် (၁၈၇.၀၂) သန်း တင်ပြထားပါသည်။ သုံးစွဲရန်ကျပ်ငွေ (၁၈၇.၇၉)သန်း၏ (၉၉.၆ %) ကို တင်ပြထားကြောင်း စိစစ်ရပါသည်။<br>(စ) နိုင်ငံခြားငွေ - MFTB ဘဏ်ရှိ ငွေလက်ကျန် US$ (၂၀၄,၁၀၀) တင်ပြထားပါသည်။ သုံးစွဲရန် US$(၂.၀၂)သိန်း၏ (၁၀၀%) တင်ပြထားကြောင်း စိစစ်ရပါသည်။<br>(ဆ) Buyer Co., - HMK APPAREL Co., Ltd. (ကိုရီးယားသမ္မတနိုင်ငံ)<br>မှတ်ချက်။ CMP Contract နှင့် စပ်လျဥ်း၍ ကိုရီးယားသမ္မတနိုင်ငံရှိ HMK APPAREL Co., Ltd.နှင့် ချုပ်ဆိုထားသည့် Memorandum of Agreement တင်ပြထားပါသည်။ နိုင်ငံခြားရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံထားဆဲဖြစ်ပါသည်။<br>(ဇ) ထုတ်လုပ်သည့် ကုန်ပစ္စည်းများ - Men'sT-Shirts, Ladies T-Shirts, Boys T-Shirts, Girl'sT-Shirts, Men's Sport - Shirts, Ladies Sport - Shirts, Boys Sport - Shirts, Girl's Sport - Shirts,<br>(ဈ) ဝင်ငွေ - နိုင်ငံခြားငွေဖြင့် US$ (၀.၉၀) သန်း ၊ ကျပ်ငွေဖြင့် ကျပ် (၁၄.၃၈) သန်း<br>(ည) အရင်းကြေကာလ - (၂)နှစ် နှင့် (၉)လ<br>(ဋ) အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း - ၃၂.၂၈ %<br>} အမေရိကန် တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ် နှုန်းဖြင့် တွက်ချက် ရရှိပါသည်။ | |

| စဉ် | ဆွေးနွေးတင်ပြချက် | ဆုံးဖြတ်ချက် |
|---|---|---|
| | (ဌ) နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် - CMP လက်ခရငွေအပေါ် (၂%) အခွန် US$ (၀.၀၂) သန်း<br>- ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁.၄၄) သန်း<br>(ဍ) သဘောထားမှတ်ချက်များ - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၊ ဆောက်လုပ်ရေး ဝန်ကြီးဌာန နှင့် ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များအသင်းတို့မှ သဘောထားများ ရရှိပြီးဖြစ်ပါသည်။<br>(ဎ) ဝန်ခံချက် - လုပ်ငန်းနှင့် စပ်လျဉ်း၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။<br>(ပ) ခံစားခွင့်များ - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။ | |

| စဉ် | ဆွေးနွေးတင်ပြချက် | ဆုံးဖြတ်ချက် |
|---|---|---|
| ၁။ | အကြောင်းအရာ။ **စည်းလုံးခြင်း မြန်မာ ကုမ္ပဏီ လီမိတက် (Harmony Myanmar Co., Ltd) မှ CMP စနစ်ဖြင့်အဝတ်အထည်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ**<br>(က) အဆိုပြုသူအမည် - ဒေါ်သီတာတင် (ဒါရိုက်တာ)<br>(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့် နေ့စွဲ (သက်တမ်း) - ၂၅၃၄/၂၀၁၀-၂၀၁၁ (၁၄-၃-၂၀၁၁)<br>(၁၅-၃-၂၀၁၁) မှ (၁၄-၉-၂၀၁၁) ထိ<br>(ခ) တည်နေရာ - မြေကွက်အမှတ် ၁၈၂/၃ နှင့် ၁၈၂/၄ ၊ဗန်းမော်အတွင်းဝန်လမ်း၊ ရွှေလင်ဗန်း စက်မှုဇုန်၊ လှိုင်သာယာမြို့နယ် ရန်ကုန်တိုင်းဒေသကြီး၊<br>- မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဦးကျော်ကျော်အမည်ဖြင့် ရရှိထားသော မြေနှင့် အဆောက်အဦ တို့ကို ငှားရမ်း၍ ဆောင်ရွက်မည် ဖြစ်ပါသည်။<br>(ဃ) မတည်ရင်းနှီးငွေ -<br>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၁၈၉.၀၀ သန်း (US$၂.၀၂သိန်းအပါအဝင်)<br>(က) ငွေသား ၁၄၅.၇၉<br>(ခ) စက်ပစ္စည်းကိရိယာများ ၁.၂၁ (US$ ၂.၀၂သိန်း)<br>(ဂ) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ ၄၂.၀၀ | |

| စဉ် | ဆွေးနွေးတင်ပြချက် | ဆုံးဖြတ်ချက် |
|---|---|---|
| | (င) ကျပ်ငွေအထောက်အထား - ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာဖြစ်သူ ဒေါ်သီတာတင်အမည်နှင့် ဒါရိုက်တာဖြစ်သူ ဒေါ်ဇင်မျိုးခိုင်အမည်ဖြင့် မြဝတီ ဘဏ်လီမိတက်ရှိ (၅-၇-၂၀၁၁)နေ့ရှိ ငွေလက်ကျန် ကျပ် (၁၈၇.၀၂) သန်း တင်ပြထားပါသည်။ သုံးစွဲရန်ကျပ်ငွေ (၁၈၇.၇၉)သန်း၏ (၉၉.၈ %) ကို တင်ပြထားကြောင်း စိစစ်ရပါသည်။<br>(စ) နိုင်ငံခြားငွေ - MFTB ဘဏ်ရှိ ငွေလက်ကျန် US$ (၂,၀၄၁,၀၀၀) တင်ပြထားပါသည်။ သုံးစွဲရန် US$(၂.၀၂)သိန်း၏ (၁၀၀%) တင်ပြထားကြောင်း စိစစ်ရပါသည်။<br>(ဆ) Buyer Co., - HMK APPAREL Co., Ltd. (ကိုရီးယားသမ္မတနိုင်ငံ)<br>မှတ်ချက်။ CMP Contract နှင့် စပ်လျဉ်း၍ ကိုရီးယားသမ္မတနိုင်ငံရှိ HMK APPAREL Co., Ltd.နှင့် ချုပ်ဆိုထားသည့် Memorandum of Agreement တင်ပြထားပါသည်။ နိုင်ငံခြားရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံထားဆဲဖြစ်ပါသည်။<br>(ဇ) ထုတ်လုပ်သည့် ကုန်ပစ္စည်းများ - Men'sT-Shirts, Ladies T-Shirts, ~~Ladies T-Shirts~~, Girl'sT-Shirts, Men's Sport - Shirts, Ladies Sport - Shirts, ~~Ladies Sport - Shirts~~, Girl's Sport - Shirts,<br>(ဈ) ဝင်ငွေ - နိုင်ငံခြားငွေဖြင့် US$ (၀.၉၀) သန်း ၊ ကျပ်ငွေဖြင့် ကျပ် (၁၄.၃၈) သန်း<br>(ည) အရင်းကြေကာလ - (၂)နှစ် နှင့် (၉)လ<br>(ဋ) အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း - ၃၂.၂၈ %<br>(ည နှင့် ဋ) အမေရိကန် တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ် နှုန်းဖြင့် တွက်ချက် ရရှိပါသည်။ | |

| စဉ် | ဆွေးနွေးတင်ပြချက် | ဆုံးဖြတ်ချက် |
| --- | --- | --- |
| | (ဌ) နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် - CMP လက်ခရငွေအပေါ် (၁၀ %) အခွန် US$ (၀.၀၉) သန်း<br>- ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁.၄၄) သန်း<br>(ဍ) သဘောထားမှတ်ချက်များ - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၊ ဆောက်လုပ်ရေး ဝန်ကြီးဌာန နှင့် ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များအသင်းတို့မှ သဘောထားများ ရရှိပြီးဖြစ်ပါသည်။<br>(ဍ) ဝန်ခံချက် - လုပ်ငန်းနှင့် စပ်လျဉ်း၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။<br>(ပ) ခံစားခွင့်များ - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။ | |

HarmonyBF.docx

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏အမည် | ဒါရိုက်တာ/ အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | အရှေ့တိုးတက်မှု အထည်ချုပ် ကုမ္ပဏီလီမိတက် | (၁) ဒေါ်သီတာတင် (ဒါရိုက်တာ) | အမှတ် - ၇ (ဒီ) ၊ စောမဟာလမ်း၊ ဗိုလ်ချို (၂) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၂) ဒေါ်ဇင်မျိုးခိုင် (ဒါရိုက်တာ) | အမှတ် - ၅၆၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ (၁၀) ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

| စဉ် | ဆွေးနွေးတင်ပြချက် | ဆုံးဖြတ်ချက် |
|---|---|---|
| ၁။ | အကြောင်းအရာ။ **စည်းလုံးခြင်း မြန်မာ ကုမ္ပဏီ လီမိတက် (Harmony Myanmar Co., Ltd) မှ CMP စနစ်ဖြင့်အဝတ်အထည်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ**<br>(က) အဆိုပြုသူအမည် - ဒေါ်သီတာတင် (အုပ်ချုပ်မှုဒါရိုက်တာ)<br>(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် နှင့် နေ့စွဲ (သက်တမ်း) - ၂၅၃၄/၂၀၁၀-၂၀၁၁ (၁၄-၃-၂၀၁၁) (၁၅-၃-၂၀၁၁) မှ (၁၄-၉-၂၀၁၁) ထိ<br>(ဂ) တည်နေရာ - မြေကွက်အမှတ် ၁၈၂/၃ နှင့် ၁၈၂/၄ ၊ဗန်းမော်အတွင်းဝန်လမ်း၊ ရွှေလင်ဗန်း စက်မှုဇုန်၊ လှိုင်သာယာမြို့နယ် ရန်ကုန်တိုင်းဒေသကြီး၊<br>- မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဦးကျော်ကျော်အမည်ဖြင့် ရရှိထားသော မြေနှင့် အဆောက်အဦ တို့ကို ငှားရမ်း၍ ဆောင်ရွက်မည် ဖြစ်ပါသည်။<br>(ဃ) မတည်ရင်းနှီးငွေ -<br>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၁၈၉.၀၀ သန်း (US$ ၂.၀၂သိန်းအပါအဝင်)<br>(က) ငွေသား ၁၄၅.၇၉<br>(ခ) စက်ပစ္စည်းကိရိယာများ ၁.၂၁ (US$ ၂.၀၂သိန်း)<br>(ဂ) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ ၄၂.၀၀ | |

HarmonyBF.docx

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက-၆(က)/မ-၁၁၆၉/၂၀၁၁( ၈၂၅ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **စည်းလုံးခြင်းမြန်မာ ကုမ္ပဏီ လီမိတက် (Harmony Myanmar Co., Ltd) မှ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော စည်းလုံးခြင်း မြန်မာ ကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd)သည် ဦးကျော်ကျော် အမည်ဖြင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုန် ၊ဗန်းမော်အတွင်းဝန်လမ်း၊ မြေကွက်အမှတ် ၁၈၂/၃ နှင့် ၁၈၂/၄ ရှိ မြေ (၂.၉၈၇)ဧကအနက်မှ (၁.၇၃၅) ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်သီတာတင် (အဘ -ဦးတင်ကြိုင်) မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၊ ဆောက်လုပ် ရေး ဝန်ကြီးဌာန၊ နိုင်ငံခြားရေး ဝန်ကြီးဌာန နှင့် ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှု လက်မှု လုပ်ငန်းရှင်များ အသင်းတို့သို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (<u>နောက်ဆက်တွဲ - က</u>)**

(၁) CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ (၂၉-၇-၂၀၁၁)ရက်စွဲပါစာဖြင့် CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုနှုန်းသည် သတ်မှတ် စံနှုန်း ဖြင့် ကိုက်ညီမှုရှိပါကြောင်း၊ CMP လက်ခနှုန်းထားများ တင်ပြမှု ဆီလျော်မှု ရှိပါကြောင်း၊ နှစ်စဉ် ထုတ်လုပ်မှု လျာထားချက်နှင့် ကိုက်ညီရန် စက်/လူ အင်အား နှစ်ဆခန့် ပိုမိုသုံးစွဲရန် လိုအပ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်။

(၂) ကုမ္ပဏီမှ နှစ်စဉ် ထုတ်လုပ်မှု လျာထားချက်နှင့် ကိုက်ညီရန် စက်/လူ အင်အား နှစ်ဆခန့် ပိုမိုသုံးစွဲရန် လိုအပ်ကြောင်း သဘောထားမှတ်ချက်အပေါ် ကုမ္ပဏီ အနေဖြင့် စက်/လူ အင်အား နှစ်ဆခန့် ပိုမိုသုံးစွဲပါက ရင်းနှီးမြှုပ်နှံမှု ပမာဏ ကြီးမား၍ လုပ်ငန်းလည်ပတ် ကုန်ကျစရိတ်တိုးလာပြီး အရှုံးနှင့်သာ ရင်ဆိုင်ရမည် ဖြစ်သဖြင့် သဘောထား မှတ်ချက်အား ပြန်လည် စဉ်းစားပေးပါရန် တင်ပြလာခဲ့ ပါသည်။

(၃) CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ (၁၁-၉-၂၀၁၁) ရက်စွဲပါစာဖြင့် ကုမ္ပဏီမှ အသနားခံ တင်ပြခြင်း နှင့်စပ်လျဉ်း၍ မြန်မာ အထည်အလိပ်လုပ်ငန်း၊

အထည်ချုပ် စက်ရုံ အမှတ်(၁၇)စက်ရုံမှူး၏ ပြန်လည် စိစစ်တွေ့ရှိချက်မှာ နှစ်စဉ် ထုတ်လုပ်မှု စက်အင်အား လူအင်အား အချိုးအစား ညီမျှမှု ရှိ/မရှိ နှင့် စပ်လျဉ်း၍ အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ T.Shirt, Sport Shirt (Men, Ladies, Boy,Girl)များ ထုတ်လုပ်ရန် ဖြစ်၍ အဆိုပြုချက်ပါ စက်အမျိုး အမည်နှင့် အရေအတွက်များတွင် Button Hole M/C, Button Attach M/C များ နည်းနေပြီး (၉)လုံးစီ ထပ်မံလိုအပ်ပါကြောင်းနှင့် လူအင်အားမှာ Semi Skilled Workers (၆၀)ဦး နှင့်Un-Skilled Workers(၂၀)ဦး ၊စုစုပေါင်း (၈၀)ဦး ခေါ်ယူထားသည်မှာ များနေသော်လည်း Q.C (၂)ဦးသာရှိပြီး ၊ PQ.C မရှိ၍ အားနည်းနေကြောင်း တွေ့ရသဖြင့် Semi Skilled Worker နှင့် Un-Skilled Workers တို့မှ ပြောင်းရွှေ့ ခန့်ထားသင့်ပါကြောင်း သုံးသပ်တင်ပြ ထားပါသည်။

(ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တွက်ချက်ပြီးဖြစ်ပါသည်။)

(ခ) **ဆောက်လုပ်ရေး ဝန်ကြီးဌာန(<u>နောက်ဆက်တွဲ - ခ</u>)**

- အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း၊

(ဂ) **ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်း (<u>နောက်ဆက်တွဲ-ဂ</u>)**

- အဆိုပြု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် လျှောက်ထားခြင်း အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

(ဃ) **နိုင်ငံခြားရေး ဝန်ကြီးဌာန(<u>နောက်ဆက်တွဲ - ဃ</u>)**

- နိုင်ငံခြားရေးဝန်ကြီးဌာနသို့ (၂၀-၇-၂၀၁၁) ရက်စွဲပါစာဖြင့် သဘောထား တောင်းခံခဲ့ရာ ပြန်ကြားချက် လက်ခံရရှိခြင်း မရှိသေးပါ။

၃။ CMP Contract နှင့် စပ်လျဉ်း၍ ကိုရီးယားသမ္မတနိုင်ငံရှိ HMK APPAREL Co., Ltd. နှင့် ချုပ်ဆိုထားသည့် Import Agreement တင်ပြထားပါသည်။

၄။ လုပ်ငန်း အဆိုပြုချက်ကို (<u>နောက်ဆက်တွဲ - င</u>) ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ (၂.၀၂)သိန်းအပါအဝင် စုစုပေါင်း ကျပ် (၁၈၉.၀၀) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ US$ (၂.၀၂)သိန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

| <u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u> | | <u>ကျပ် ၁၈၉.၀၀ သန်း</u> US$ (၂.၀၂)သိန်းအပါအဝင် |
|---|---|---|
| (က) | ငွေသား | ၁၄၅.၇၉ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁.၂၁ (US$ ၂.၀၂ သိန်းအပါအဝင်) |
| (ဂ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၄၂.၀၀ |

၅။ အဆိုပြုလုပ်ငန်းမှချုပ်လုပ်ပြီးအထည်များကို CMP စနစ်အရ ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့၍ Reject (၁)ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ထုတ်လုပ်နိုင်မှုနှင့် CMP လက်ခနှုန်း၊ ပြည်တွင်းရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဥ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခတစ်ဒါဇင် နှုန်း (US$) | တစ်ဒါဇင် ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁။ | Men's T - Shirts | ၂၂,၂၀၀ | ၃.၆၂ | ၈,၁၀၀ |
| ၂။ | Ladies T - Shirts | ၂၂,၂၀၀ | ၃.၆၂ | ၈,၁၀၀ |
| ၃။ | Boy's T - Shirts | ၂၈,၅၀၀ | ၃.၀၂ | ၆,၃၀၀ |
| ၄။ | Girl'sT - Shirts | ၂၈,၅၀၀ | ၃.၀၂ | ၆,၃၀၀ |
| ၅။ | Men's Sport - Shirts | ၂၂,၂၀၀ | ၆.၀၄ | ၈,၁၀၀ |
| ၆။ | Ladies Sport - Shirts | ၂၂,၂၀၀ | ၆.၀၄ | ၈,၁၀၀ |
| ၇။ | Boy's Sport - Shirts | ၂၈,၅၀၀ | ၅.၄၂ | ၆,၃၀၀ |
| ၈။ | Girl's Sport - Shirts | ၂၈,၅၀၀ | ၅.၄၂ | ၆,၃၀၀ |
| | **စုစုပေါင်း** | **၂၀၂,၈၀၀** | | |

*လုပ်သားတစ်ဦးလျှင် တစ်နေ့အထည်မျိုးစုံ (၁၉)ထည် ထုတ်လုပ်နိုင်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်**

| | **နိုင်ငံခြားငွေဖြင့် US$(သန်း)** | **ညီမျှသော ကျပ်(သန်း)** | **ကျပ်ငွေဖြင့် ကျပ်(သန်း)** | **စုစုပေါင်းကျပ် ကျပ်(သန်း)** |
|---|---|---|---|---|
| ဝင်ငွေ | ၀.၉၀ | ၅.၄၀ | ၁၄.၃၈ | ၁၉.၇၈ |
| အသုံးစရိတ် | ၀.၁၄ | ၀.၈၄ | ၆၄၈.၉၄ | ၆၄၉.၇၈ |
| အသားတင်အမြတ် | ၀.၇၆ | ၄.၅၆ | (-) ၆၃၄.၅၆ | (-)၆၃၀.၀၀ |

**အမေရိကန်တစ်ဒေါ်လာ= ၁၀၀၀ကျပ်**

| | **နိုင်ငံခြားငွေဖြင့် US$(သန်း)** | **ညီမျှသော ကျပ်(သန်း)** | **ကျပ်ငွေဖြင့် ကျပ်(သန်း)** | **စုစုပေါင်းကျပ် ကျပ်(သန်း)** |
|---|---|---|---|---|
| ဝင်ငွေ | ၀.၉၀ | ၉၀၀ | ၁၄.၃၈ | ၉၁၄.၃၈ |
| အသုံးစရိတ် | ၀.၁၄ | ၁၄၀ | ၆၆၉.၀၂ | ၈၀၉.၀၂ |
| အသားတင်အမြတ် | ၀.၇၆ | ၇၆၀ | (-)၆၅၄.၆၄ | ၁၀၅.၃၆ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ CMP လက်ခရငွေ အပေါ် (၁၀%)အခွန် ဖြတ်တောက်ရရှိငွေ အမေရိကန်ဒေါ်လာ (၀.၀၉)သန်း နှင့် ကုန်သွယ် လုပ်ငန်းခွန် ကျပ် (၁.၄၄ ) သန်း ရရှိမည် ဖြစ်ပါသည်။

၈။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၃၇၆) ဦးနှင့် ပြည်ပလုပ်သား(၄)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး အတွက် ကြို/ပို့ယာဉ် စီစဉ်ပေးခြင်း၊ အလုပ်ဆင်းချိန် မုန့်ကန်မှု ဆုကြေးပေးခြင်း၊ အချိန်ပို လုပ်အားခပေးခြင်း၊ ထိခိုက်ဒဏ်ရာ ရရှိပါက လူမှုဖူလုံရေး ဆေးခန်းသို့ စေလွှတ်ခြင်း၊ လူမှုဖူလုံရေး ထည့်ဝင်ငွေများကို အလုပ်ရှင်ပိုင်းနှင့် အလုပ်သမားပိုင်းအတွက် စီစဉ်ပေး ထားပါကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။ လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် မြဝတီဘဏ်လီမိတက်ရှိ(၅-၇-၂၀၁၁)နေ့တွင် ကုမ္ပဏီ၏ မန်နေဂျင်း ဒါရိုက်တာဖြစ်သူ ဒေါ်သီတာတင် အမည်ဖြင့် ငွေလက်ကျန် ကျပ်(၉၇.၀၁)သန်း နှင့် ဒါရိုက်တာဖြစ်သူ ဒေါ်ဇင်မျိုးခိုင် အမည်ဖြင့် ငွေလက်ကျန် ကျပ်(၉၀.၀၁)သန်း စုစုပေါင်း ကျပ် (၁၈၇.၀၂)သန်း ရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် MFTB ဘဏ်ရှိ (၁၁-၇-၂၀၁၁) နေ့တွင် US$(၂၁၄၁၀၀)ရှိကြောင်း တင်ပြထားပါသည်။ ဘဏ်လက်ကျန် လုံလောက်မှုရှိကြောင်း တင်ပြအပ်ပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ ကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ နိုင်ငံခြားငွေဖြင့် ရရှိသော CMP အခ ကြေးငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၂။ သို့ဖြစ်ပါ၍ စည်းလုံးခြင်း မြန်မာ ကုမ္ပဏီ လီမိတက် (Harmony Myanmar Co., Ltd) မှ CMP စနစ်ဖြင့် အထည် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အေးကို ၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

စည်းလုံးခြင်း မြန်မာ ကုမ္ပဏီ လီမိတက် (Harmony Myanmar Co., Ltd) မှ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၅) ၊အပိုဒ် (၈)နှင့် (၉)ပါ အချက်များ အရ စိစစ်ပြီး မှန်ကန်ပါကြောင်း တင်ပြအပ်ပါသည်။

၁၉/၉

(နှင်းဖြူထွေး)
ဒု/ဦးစီးမှူး

(သီတာမြင့်)
ညွှန်ကြားရေးမှူး

နောက်ဆက်တွဲ(က)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အလုပ်သမားဝန်ကြီးဌာန
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄- အလ/ခွဲ(၂)၂၀၁၁( ၃၄၈၆)
ရက် စွဲ ၊ ၂၀၁၁ ခုနှစ် ဇူလိုင်လ ၂၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀.၇.၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၇က-၆(က)/မ-၁၁၆၉/၂၀၁၁(၇၄၉၉)

၁။ အထက်ရည်ညွှန်းပါစာဖြင့် စည်းလုံးခြင်းမြန်မာကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုံ၊ ဗန်းမော်အတွင်းဝန်လမ်း၊ အမှတ်-၁၈၂/၃ နှင့် ၁၈၂/၄ ရှိ မြေ(၂.၉၈၇)ဧကအနက်မှ (၁.၇၃၅)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးများအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီသို့ အောက်ပါ အချက်များ စိစစ်ပြန်ကြားပေးနိုင်ပါရန် မေတ္တာရပ်ခံလာခဲ့ပါသည်။

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိ-မရှိ။

( ခ ) CMP လုပ်ခနှုန်းများ တင်ပြမှုသည် ဆီလျော်မှုရှိ-မရှိ။

( ဂ ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ-မရှိ။

၂။ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန် ဦးစီး၍ CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ဝင်များသည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုန်၊ ဗန်းမော်အတွင်းဝန်လမ်း၊ အမှတ်(၁၈၂/၃) နှင့် (၁၈၂/၄)ရှိ စည်းလုံးခြင်းမြန်မာကုမ္ပဏီလီမိတက် (Harmony Myanmar Co., Ltd)၏ အဝတ်အထည် အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နေမှုအခြေအနေများ သိရှိရန် (၂၃.၇.၂၀၁၁) ရက်နေ့(၁၁:၃၀)နာရီမှ(၁၃:၃၀)နာရီအထိ သွားရောက်ကြည့်ရှု စစ်ဆေး ခဲ့ပါသည်။

၃။ စက်ရုံအား နိုင်ငံသား ဒေါ်သီတာတင် အမည်ဖြင့်လုပ်ငန်း လိုင်စင်လျှောက်ထားဆဲ ဖြစ်ပြီး စက်ရုံ အကျယ်အဝန်းမှာ အလျား ၂၈၀ ပေ၊ အနံ ၁၅၂ ပေ နှင့် အမြင့် ၅၀ ပေ ရှိပြီး Hall Type အနေအထားဆောက်လုပ်ဆဲဖြစ်၍ ရေလောင်းအိမ်သာများ နှင့် ရေဂါလံ(၅၀၀၀)ဆန့် ရေစင်တည်ဆောက်ထားပါသည်။ စက်ရုံဝန်းအတွင်း၌ မျှော်စင်(၂)ခု တည်ဆောက်ရန်ကျန်ရှိပြီး

စက်ရုံရုံးခန်း Sample ခန်းကို စက်ရုံအတွင်း ထားရှိရန် စီစဉ်ထားပါသည်။ လက်ရှိအခြေအနေတွင် ပြင်ဆင်မှု ပြုလုပ်လျှက်ရှိ၍ ဩဂုတ်လကုန်တွင် အချောသတ်မည်ဖြစ်ပါသည်။

၄။ အောက်ဖော်ပြပါအချက်များ စစ်ဆေးတွေ့ရှိရပါသည် -

(က) အပ်ချုပ်စက်များ စက်ရုံ၌ တပ်ဆင်ထားမှုမရှိခြင်း၊

(ခ) လုပ်သားအင်အားစုဆောင်းဆဲဖြစ်ခြင်း၊

(ဂ) စက်ရုံအတွင်း အခန်းများဖွဲ့ရန်နှင့် ကြမ်းခင်းများ အချောကိုင်ရန်လိုအပ်ခြင်း၊

(ဃ) စက်ရုံအတွင်း မီးချောင်း၊ ပန်ကာများ၊ မီးလိုင်းများ တတ်ဆင်ရန်လိုအပ်ခြင်း၊

(င) လုပ်သားများ ထမင်းစားဆောင်လိုအပ်ခြင်း၊

၅။ ရည်ညွှန်းပါစာဖြင့် တောင်းခံလာသည့် အချက်(၃)ချက်နှင့်ပတ်သက်၍ မြန်မာအထည်အလိပ်လုပ်ငန်း၊ အထည်ချုပ်စက်ရုံ အမှတ်(၁၇)စက်ရုံမှူး ဒေါ်လှသီတာ၏ စီစစ်တွက်ချက်မှုအရ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

(က) **CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှုရှိ/ မရှိ**

အဆိုပြုချက်ပါ တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ အထည်လိုအပ်ချက်နှုန်းနှင့် သတ်မှတ်စံနှုန်းဖြင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရ၍ တစ်နှစ်ကုန်ကြမ်းလိုအပ်ချက်ပမာဏ မှန်ကန်ကြောင်း တွေ့ရှိရပါသည်။

(ခ) **CMP လက်ခနှုန်းထားများ တင်ပြထားမှု ဆီလျှော်မှုရှိ/မရှိ**

CMP ချုပ်ထည်များ၏ လက်ခနှုန်းထားများသည် ချုပ်ထည်၏ ပိတ်သားအမျိုးအစား၊ ဒီဇိုင်းအမျိုးအစားနှင့် ချုပ်လိုသည့် ချုပ်ရိုးချုပ်သား ကောင်းမွန်မှုအပေါ်တွင် မူတည်၍ အနည်းငယ်ဈေးနှုန်း အနိမ့်အမြင့်ရှိသဖြင့် အဆိုပြုချက်ပါ CMP လက်ခနှုန်းထားများသည် လက်ရှိရရှိသည့် လက်ခနှုန်းထားများနှင့် အနည်းငယ်ပိုမိုရရှိနေကြောင်းတွေ့ရှိရ၍ CMP လက်ခနှုန်းထားများ တင်ပြမှုဆီလျှော်မှုရှိပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ/မရှိ**

အဆိုပြု ချက်ပါ စက်နှစ်မျိုးနှင့် ကုန်ထုတ်လိုင်း(၁၁)လိုင်းကို အခြေခံ၍ ကျွမ်းကျင်ဝန်ထမ်း (၂၆၄)ဦး လိုပြီး QC နှစ်ဦးထက် ပိုမိုတိုးမြှင့်ခန့်ထားရန်လိုပါသည်။ အဆိုပြုချက်ပါ စက်လိုင်း(၁၁)လိုင်းနှင့် T-Shirt/Sport-Shirt ထုတ်လုပ်ပါက တစ်နှစ်လျှင် T-Shirt (၄၅၀၀၀)ဒါဇင်နှင့် Sport-Shirt (၃၂၅၀၀)ဒါဇင်သာ ထုတ်လုပ်နိုင်မည်ဖြစ်ရာ အဆိုပြုချက်တွင် T-Shirt ဒါဇင်(၁၀၀၀၀၀)နှင့် Sport-Shirt ဒါဇင်(၁၀၀၀၀၀) ထုတ်လုပ်ရန်လျာထားသဖြင့် အဆိုပြုပမာဏသည် ထုတ်လုပ်နိုင်သည့် အရေအတွက်ထက် နှစ်ဆခန့်ပိုများနေကြောင်း တွေ့ရှိ

ရပါသည်။ နှစ်စဉ်ထုတ်လုပ်မှု လျာထားချက်နှင့်ကိုက်ညီရန် စက်/လူအင်အား နှစ်ဆခန့် ပိုမိုသုံးစွဲရန် လိုပါသည်။

၆။ သို့ပါ၍ စိစစ်တွေ့ရှိမှု အခြေအနေအရ CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုနှုန်းသတ်မှတ်စံနှုန်းဖြင့် ကိုက်ညီမှုရှိကြောင်း၊ CMP လက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှုလျာထားချက်နှင့် ကိုက်ညီရန် စက်/လူအင်အားနှစ်ဆခန့် ပိုမိုသုံးစွဲရန် လိုအပ်ကြောင်း သုံးသပ်တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြင့်သိန်း၊ အတွင်းရေးမှူး)

မိတ္တူကို

- အမှတ်(၁)စက်မှုဝန်ကြီးဌာန
- စည်းလုံးခြင်း မြန်မာကုမ္ပဏီလီမိတက်
- ရုံးလက်ခံ
- မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အလုပ်သမားဝန်ကြီးဌာန
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄ - အလ/ခွဲ(၂)၂၀၁၁(၄၁၀၀)
ရက်စွဲ၊ ၂၀၁၁ ခုနှစ် စက်တင်ဘာလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၂)စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ စည်းလုံးခြင်းမြန်မာကုမ္ပဏီလီမိတက်(Hanony Myanmar Co., Ltd) ၏ အဆိုပြုချက်နှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးပို့ခြင်း

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀.၇.၂၀၁၁ ရက်စွဲပါစာအမှတ် ၇က-၆(က)/မ-၀၁၆၉/၂၀၁၁(၇၄၉၉)
(၂) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ၏ ၂၉.၇.၂၀၁၁ ရက်စွဲပါစာအမှတ် ၃၄-အလ/ခွဲ(၂)၂၀၁၁(၃၄၈၆)
(၃) စည်းလုံးခြင်းမြန်မာ(Hanony Myanmar Co., Ltd)၏ ၁၁.၈.၂၀၁၁ ရက်စွဲပါစာ

၁။ အထက်ရည်ညွှန်းချက် (၁) ပါ စာဖြင့် စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် ( Harmony Myanmar Co., Ltd)မှ ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ် ရွှေလင်ပန်းစက်မှုဇုံ၊ဝန်းမော် အတွင်းဝန်လမ်းအမှတ်-၁၈၂/၃ နှင့် ၁၈၂/၄ ရှိ မြေ(၂.၉၈၇)ဧကအနက်မှ(၁.၇၃၅)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးများအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီသို့ အောက်ပါအချက်များ စိစစ်ပြန်ကြားပေးနိုင်ပါရန် မေတ္တာရပ်ခံလာခဲ့ရာ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားမှတ်ချက်ပြန်လည်ပေးပို့တင်ပြခဲ့ပါသည်။

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိ-မရှိ။

(ခ) CMP လုပ်ခနှုန်းများ တင်ပြမှုသည် ဆီလျော်မှုရှိ-မရှိ။

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ-မရှိ။

၂။ စည်းလုံးခြင်းမြန်မာ ကုမ္ပဏီလီမိတက် ( Harmony Myanmar Co., Ltd)မှ ရည်ညွှန်း(၃)ပါစာဖြင့် CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ၏ ကုမ္ပဏီ၏ နှစ်စဉ်ထုတ်လုပ်မှုလျာထားချက်နှင့်ကိုက်ညီစေရန် စက်/လူအင်အား နှစ်ဆခန့် ပိုမိုသုံးစွဲရန် လိုအပ်ကြောင်း သဘောထားမှတ်ချက်အပေါ် ကုမ္ပဏီအနေဖြင့်စက်/လူအင်အား နှစ်ဆပိုမိုသုံးစွဲရပါက ရင်းနှီးမြှုပ်နှံမှုငွေကြီးမား၍ လုပ်ငန်းလည်ပတ်ကုန်ကျ

D:\NPT(ET\S2/MIC

ရရှိတိုးလာပြီး ကုမ္ပဏီမှာနှစ်စဉ် အရှုံးနှင့်သာ ရင်ဆိုင်ရမည်ဖြစ်သဖြင့် သဘောတူထားမှတ်ချက်အား ပြန်လည်စဉ်းစားပေးနိုင်ပါရန် တင်ပြလာခဲ့ပါသည်။

၃။ စည်းလုံးခြင်းမြန်မာ ပူးပေါင်းဆောင်ရွက်ကုမ္ပဏီ၏ အသနားခံစာပါ တင်ပြချက်နှင့် ပတ်သက်၍ မြန်မာ အထည်အလိပ်လုပ်ငန်း ၊ အထည်ချုပ်စက်ရုံ အမှတ်(၁၇) စက်ရုံမှူး၏ ပြန်လည်စီစစ်တွက်ချက်မှုအရ အောက်ပါအတိုင်းတွေ့ရှိရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အမျိုးအစားညီညွတ်မှု ရှိ/မရှိ**

အဆိုပြုချက်ပါတစ်နှစ်လုံးအတွက်ကုန်ကြမ်းလိုအပ်ချက်မှာ အထည်လိုအပ်ချက် နှုန်းနှင့် သတ်မှတ်စံနှုန်းဖြင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရ၍ တစ်နှစ်ကုန်ကြမ်း လိုအပ်ချက် ပမာဏမှန်ကန်ကြောင်း တွေ့ရှိရပါသည်။

(ခ) **CMP လက်ခနှုန်းထားများ တင်ပြထားမှု ဆီလျော်မှု ရှိ/မရှိ**

CMP ချုပ်ထည်များ၏ လက်ခနှုန်းထားများသည် ချုပ်ထည်၏ ပိတ်သားအမျိုးအစား၊ ဒီဇိုင်းအမျိုးအစားနှင့် ချုပ်လိုသည့် ချုပ်ရိုးချုပ်သားကောင်းမွန်မှု အပေါ်တွင် မူတည်၍အနည်းငယ်ဈေးနှုန်းအနိမ့်အမြင့်ရှိသဖြင့်အဆိုပြုချက်ပါCMPလက်ခနှုန်းထားများသည် လက်ရှိရရှိသည့် လက်ခနှုန်းထားများနှင့် အနည်းငယ် ပိုမိုရရှိနေကြောင်း တွေ့ရှိရ၍ CMP လက်ခနှုန်းထားများ တင်ပြမှု ဆီလျော်မှုရှိပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှုစက်အင်အားလူအင်အား အမျိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါထုတ်လုပ်မည့် ပစ္စည်းများမှာ T.Shirt,SportShirt(Men.Ladies. Boy,Girl)များ ထုတ်လုပ်ရန်ဖြစ်၍ အဆိုပြုချက်ပါ စက်အမျိုးအမည် နှင့်အရေအတွက် များတွင် Button Hole M/C၊ Button Attach M/Cများနည်းနေပြီး(၉)လုံးစီထပ်မံ လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

အဆိုပြုချက်ပါ စက်အင်အား လူအင်အား အမျိုးအစားတွင် တပ်ဆင်မည့် အဓိကစက် Sun Star Lock StitchM/C(၁၃၂)လုံးနှင့် Kingtex Over Lock M/C (၁၃၂)လုံးကိုအခြေခံပြီး ကုန်ထုတ်လိုင်း(၁၁)လိုင်းဖွဲ့စည်းမည်ဖြစ်၍ ကျွမ်းကျင်ဝန်ထမ်း (၂၆၄)ဦး အသုံးပြုရန် လိုအပ်ပါသည်။ Semi Skilled Workers(၆၀)ဦးနှင့် Un-Skilled Workers (၂၀)ဦး၊စုစုပေါင်း(၈၀)ဦးခေါ်ယူထား၍ များနေသော်လည်း စက်ရုံတစ်ရုံလုံး တွင် Q.C (၂)ဦးသာရှိပြီး PQ.C မရှိ၍ Q.C အင်အားနည်းနေကြောင်းတွေ့ရသဖြင့် Semi Skilled Workers နှင့် Un-Skilled Workers တို့မှနေ၍ ပြောင်းရွှေ့ခန့်ထားသင့်ပါသည်။

နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်၊ လူအင်အား အမျိုးအစား ညီမျှမှုရှိ/မရှိစိစစ်ရာ တွင် Harmony Myanmar Company မှ အဆိုပြုတင်သွင်းထားသော စက်များ၏ Catalogue များအရ ခေတ်မီ စက်ကိရိယာများဖြစ်ပြီး စက်များ၏ Efficiencyမြင့်မား ကြောင်းတွေ့ရှိရပါသည်။ အဆိုပြုချက်ပါ ထုတ်လုပ်မှုအရေအတွက်သည် စက် / လူ အင်အားဖွဲ့စည်းဆောင်ရွက်၍ ထုတ်လုပ်နိုင်မည့် အရေအတွက်နီးပါးရှိကြောင်း ထပ်မံ စီစစ်တွေ့ရှိရ၍ အဆိုပြုတင်ပြထားသည့်စက်အမျိုးအစားအတိုင်းလိုအပ်ကြောင်းတွေ့ရှိ ရပါသည်။

